မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော မိတ္တအောင်ကုမ္ပဏီလီမိတက် (Meik Ta Aung Company Limited) ၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၀-၉-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်း အဝေးတင်ပြခြင်း (၃၆/၂၀၁၆) | ၂၆-၉-၂၀၁၆ | | |
| ၃ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြား ခြင်း | ၂၆-၉-၂၀၁၆ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၈-၁၀-၂၀၁၆ | ၁၁-၁၁-၂၀၁၆ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်း ကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၈-၁၀-၂၀၁၆ | ၂၆-၁၀-၂၀၁၆ | |
| | (ဂ) CMP လုပ်ငန်းများကြီးကြပ်ရေး ကော်မတီ | ၁၈-၁၀-၂၀၁၆ | ၃၁-၁၀-၂၀၁၆ | |
| | ကုမ္ပဏီ၏ပြင်ဆင်ချက်အပေါ်ထပ်မံ စိစစ်ချက် | ၁၆-၁၁-၂၀၁၆ | ၂၅-၁၁-၂၀၁၆ | |
| ၅ | ကုမ္ပဏီသို့ လိုအပ်ချက်များ အကြောင်း ကြားခြင်း | ၂-၁၁-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြ ခြင်း | | ၂၆-၁၁-၂၀၁၆ | |
| ၇ | အဆိုပြုလွှာ (၁၀) စုံ ပေးပို့ခြင်း | | ၂-၁၂-၂၀၁၆ | |
| ၈ | **စုစုပေါင်းကြာမြင့်ရက် ၇၃ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - မိတ္တအောင်ကုမ္ပဏီလီမိတက်(Meik Ta Aung Co., Ltd.) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် Jacket,Shirt, Polo-Shirt နှင့် Pants စသည့်အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် ၅၃၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၄၊စက်မှုဇုန်၊ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၁၁၆.၁၇ သန်း (US$ ၀.၄၁ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်း |
| လုပ်ငန်းသက်တမ်း | - ၁၀ နှစ် |
| အရင်းကြေကာလ | - ၃ နှစ် ၄ လ |
| IRR | - ၂၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၀.၁၉၂ သန်း | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၅ | ဝင်ငွေခွန် | ကျပ် ၁၉၂.၂၅ သန်း | ကျပ် ၄၅၇.၃၉ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၄၆၃.၈၂ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ် ၄၈ သိန်းကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁) ဦး |
| ၈ | CSR (၂%) | | ကျပ် ၂၄၅.၂၂ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၅၀၀ ဦး<br>ပြည်တွင်းလုပ်သား (၅၀၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့် အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများ ပိုမို ရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၁၉၄.၆၀၂ သန်း** | **ကျပ် ၁၁၆၇.၆၀၂ သန်း** |
| | | **၁ : ၆** | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် မိတ္တအောင် ကုမ္ပဏီလီမိတက်(Meik Ta Aung Company Limited) မှ CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - မိတ္တအောင် ကုမ္ပဏီလီမိတက်(Meik Ta Aung Company Limited) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးတင့်နိုင်ထွန်း (အဘ- ဦးထွန်းဝေ) |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ် ၅၃၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၄၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးတင့်နိုင်ထွန်း၊ဒေါ်အေးမြတ်မြတ်ခိုင် |
| | မြေအကျယ်အဝန်း | - ၂.၃၄၁ ဧက (၉,၄၇၃.၆၉၉ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၇၀ ပေ x ၃၅၀ ပေ ၁ ထပ်အဆောက်အဦ (၁) လုံး<br>- ၇၀ ပေ x ၄၀၀ ပေ ၁ ထပ်အဆောက်အဦ (၁) လုံး |
| ၅ | စုစုပေါင်းမတည်ငွေရင်းပမာဏ | **ကျပ် ၁၁၁၆.၁၇ သန်း (US$ ၀.၄၁ သန်းအပါအဝင်) (ကျပ်သန်း)** |
| | - ငွေပမာဏ | ၅၀.၀၀ |
| | - စက်ပစ္စည်းတန်ဖိုး | ၄၉၆.၈၆ (US$ ၀.၄၁ သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| | - အဆောက်အဦ/မြေတန်ဖိုး | ၄၃.၃၁ |
| | - ဆောက်လုပ်ရေးစရိတ် | ၅၀၄.၀၀ |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၂၂.၀၀ |
| | - **စုစုပေါင်း** | **၁၁၁၆.၁၇ (US$ ၀.၄၁ သန်းအပါအဝင်)** |
| ၆ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၁၀ နှစ် |
| ၇ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၈ | ရောင်းချမည့်နည်းစနစ် | - ပြည်ပ ၁၀၀ % တင်ပို့ခြင်း |
| ၉ | ထုတ်လုပ်မှုနှင့် CMP လက်ခနှုန်း (၆နှစ်မြောက်) | |

| အမျိုးအစား | ထုတ်လုပ်မှုအရေအတွက် (Pcs) | CMP လက်ခနှုန်း (US$/Pcs) |
|---|---|---|
| Jacket | ၁၉၅,၆၃၉ | ၂.၈၂ |
| Shirt | ၂၃၄,၇၆၆ | ၂.၀၅ |
| Polo-Shirt | ၂၃၄,၇၆၆ | ၂.၂၆ |
| Pants | ၁၉၅,၆၃၉ | ၁.၇၉ |

| | | |
|---|---|---|
| ၁၀ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၂,၂၉၆.၂၂ သန်း |
| | ကုမ္ပဏီအသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၁,၉၇၂.၄၇သန်း |
| | ကုမ္ပဏီအသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၃၂၃.၇၅ သန်း |

| | | |
|---|---|---|
| ၁၁ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်)<br>ပြည်တွင်း | - **၅၀၀ ဦး**<br>- ၅၀၀ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၄၀၀,၀၀၀) |
| ၁၂ | အရင်းကြေကာလ | - ၃ နှစ် ၄ လ |
| ၁၃ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၈ % |
| ၁၄ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)<br>ဝင်ငွေခွန် | <br><br>- ကျပ် ၁၀၇.၉၂ သန်း (၁ US$= ၁၂၀၀ ကျပ်) |
| ၁၅ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၅၀၀၀၀၀ KWH |
| ၁၆ | ငွေကြေးအထောက်အထား | - မိတ္တအောင် ကုမ္ပဏီလီမိတက်(Meik Ta Aung Company Limited)၏ ကမကထပြုသူ ဦးတင့်နိုင်ထွန်း သည် ဧရာဝတီဘဏ်(မြောက်ဒဂုံဘဏ်ခွဲ-၄)တွင် ၂၉-၈-၂၀၁၆ နေ့တွင် ကျပ် ၂၃၈,၄၀၃,၇၇၅.၅၁ ရှိကြောင်း အထောက် အထား မိတ္တူ တင်ပြထားပါ သည်။ |
| ၁၇ | CSR | - ၂ % |
| ၁၈ | အခြား | - နိုင်ငံခြားမှ ကျွမ်းကျင်သူ (၁၀) ဦးတို့သည် အလှည့်ကျ မြန်မာနိုင်ငံ သို့ လာရောက်၍ သင်တန်းပေးမည် ဖြစ်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၃/မ-၁၃၉၅/၂၀၁၆(၁၆၀၃ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် မိတ္တအောင်ကုမ္ပဏီလီမိတက် (Meik Ta Aung Company Limited) တည်ထောင်ကာ CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စ**

၁။ မိတ္တအောင်ကုမ္ပဏီလီမိတက် (Meik Ta Aung Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊စက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်-၁၄၄၊ မြေကွက်အမှတ် ၅၃ ရှိ မြေဧရိယာ ၂.၃၄၁ ဧက (၉,၄၇၃.၆၉၉ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတင့်နိုင်ထွန်း (အဘ-ဦးထွန်းဝေ) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာ ပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ၁၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ်ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၁၁၁၆.၁၇ သန်း (US$ ၀.၄၁ သန်း အပါအဝင်) ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ငွေသား | ကျပ် ၅၀.၀၀ သန်း |
| (ခ) | စက်ပစ္စည်းတန်ဖိုး | ကျပ် ၄၉၆.၈၆ သန်း (US$ ၀.၄၁ သန်းနှင့်ညီမျှသော မြန်မာကျပ်ငွေ) |
| (ဂ) | အဆောက်အဦ/မြေတန်ဖိုး | ကျပ် ၄၇.၃၁ သန်း |
| (ဃ) | ဆောက်လုပ်ရေးစရိတ် | ကျပ် ၅၀၄.၀၀ သန်း |
| (င) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းတန်ဖိုး | ကျပ် ၂၂.၀၀ သန်း |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၅၀၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး

ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။ နိုင်ငံခြားသားကျွမ်းကျင်ပညာရှင် ၁၀ ဦး မြန်မာနိုင်ငံသို့ လာရောက်သင်တန်းပေးမည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော အထည်အားလုံးကို ပြည်ပသို့ ၁၀၀ % တင်ပို့ မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ထုတ်လုပ်မှု အရေအတွက်နှင့် CMP လက်ခနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| အမျိုးအမည် | ထုတ်လုပ်မှုအရေအတွက် (pcs) | CMP လက်ခ (US$/pcs) |
|---|---|---|
| Jacket | ၁၉၅,၆၃၉ | ၂.၈၂ |
| Shirt | ၂၃၄,၇၆၆ | ၂.၀၅ |
| Polo-Shirt | ၂၃၄,၇၆၆ | ၂.၂၆ |
| Pants | ၁၉၅,၆၃၉ | ၁.၇၉ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်) တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂,၂၉၆.၂၂ |
| (ခ) | အသုံးစရိတ် | ၁,၉၇၂.၄၇ |
| (ဂ) | အသားတင်အမြတ် | ၃၂၃.၇၅ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန်ကျပ် ၁၀၇.၉၁ သန်းရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၃ နှစ် ၄ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၂၈ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ဝန်ကြီးဌာန နှင့် CMP လုပ်ငန်းများကြီးကြပ်ရေး ကော်မတီများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ (၁၀-၁၁-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၃၁/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ်(၆၂) အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်ရန် သဘောထားမှတ်

ချက်အပေါ် **ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထား မှတ်ချက် နှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။**
**နောက်ဆက်တွဲ (ခ)**

(ဂ) **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ** လိုအပ်ချက်များမှတ်ချက်ပြု ထားခြင်း အပေါ် ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်းကို CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဂ)**

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် မိတ္တအောင်ကုမ္ပဏီလီမိတက် (Meik Ta Aung Company Limited) ၏ ကမကထပြုသူ ဦးတင့်နိုင်ထွန်းသည် ဧရာဝတီဘဏ် (မြောက်ဒဂုံဘဏ်ခွဲ-၄) တွင် ၂၉-၈-၂၀၁၆ နေ့တွင် ကျပ် ၂၃၈,၄၀၃,၇၇၅.၅၁ ရှိကြောင်း အထောက်အထား မိတ္တူ တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ မီးဘေး ကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေ ကျပ် ၄၈ သိန်း အထက် ရရှိသော ဝန်ထမ်းများ၏လစာဝင်ငွေအပေါ် ကျသင့်မည့် ဝင်ငွေခွန်များအား မှန်ကန်စွာ တွက်ချက်၍ ပေးဆောင်မည် ဖြစ်ကြောင်း နှင့် ၂၀၁၅-၂၀၁၆ ခုနှစ် အခွန်ပေးဆောင်ထားသည့် အထောက်အထားများကိုလည်းတင်ပြထားပါသည်။

၁၁။ ဝန်ထမ်းသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများအား အဆောင်နေထိုင်ခွင့်နှင့် စားသောက်ရန်အတွက် စီစဉ်ပေးပါကြောင်း ၊ ဝန်ထမ်းများအတွက် ကြိုပို့ ယာဉ်များစီစဉ်ပေးပါကြောင်း၊ စက်ရုံအတွင်း ဝန်ထမ်းများ ကျန်းမာရေးအတွက်ဆေးခန်းဖွင့်လှစ် ပေးထားမည် ဖြစ်ပါကြောင်း၊ လူမှုဖူလုံရေးအသင်းဝင်ပေးခြင်း၊ ဝန်ထမ်းအခွင့်အရေး အပြည့်အဝ ရရှိရေးကို စီစဉ်ဆောင်ရွက်ပေးမည် ဖြစ်ကြောင်း နှင့် ကုမ္ပဏီမှ နှစ်စဉ်အသားတင်အမြတ်၏ ၂ % ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို နိုင်ငံတော်မှ ဖြန့်ဖြူးပေးသည့် လျှပ်စစ်ဓါတ်အားလိုင်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးအားပေးစက်များကိုပါ အသုံးပြုမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၂၆ ရက်နေ့တွင် ကျင်းပပြု လုပ်သော (၃၆/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထား လျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ မိတ္တအောင်ကုမ္ပဏီလီမိတက် (Meik Ta Aung Company Limited) သည် ရန်ကုန် တိုင်းဒေသကြီး၊ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊စက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်-၁၄၄၊ မြေကွက်

အမှတ် (၅၃) ရှိ မြေဧရိယာ ၂.၃၄၁ ဧက (၉,၄၇၃.၆၉၉ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

M-7811
18/11

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၂၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈. ၁၀. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၃/မ-၁၃၉၅/၂၀၁၆(၁၃၅၃)

၁။ မိတ္တာအောင်ကုမ္ပဏီလီမိတက် (Meik Ta Aung Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၄၊ မြေကွက်အမှတ်(၅၃)ရှိ မြေဧရိယာ ၂. ၃၄၁ ဧက (၉,၄၇၃. ၆၉၉ စတုရန်းမီတာ)ရှိ မြေနှင့်အဆောက်အဦပေါ်တွင် CMP စနစ်ဖြင့် Jacket , Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၁၀. ၁၁. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၂)အရ ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

မိတ္တူကို
ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မိတ္တာအောင်ကုမ္ပဏီလီမိတက် (လုပ်ငန်းစတင်မည့်အချိန်နှင့် ပြီးဆုံးမည့်အချိန်ဇယားအား ပြန်လည်တင်ပြရန်)
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Cabinet/31..(3)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁( ၂၃၆/၁၆ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မိတ္တအောင် ကုမ္ပဏီလီမိတက် မှ CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၀-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၃၉၅/ ၂၀၁၆(၁၃၅၅)

၁။ မိတ္တအောင် ကုမ္ပဏီလီမိတက် (Meik Ta Aung Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၄၊ မြေကွက်အမှတ် (၅၃)ရှိ မြေဧရိယာ ၂.၃၄၁ ဧက (၉,၄၇၃.၆၉၉ စတုရန်းမီတာ)ရှိ မြေ နှင့် အဆောက်အဦပေါ်တွင် CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမည့်သက်တမ်းမှာ (၁၀) နှစ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကာကွယ်ရေးအစီအမံများကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှ ရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အမှိုက်ပုံးများထားရှိခြင်း၊ရေနုတ်မြောင်း

များမှ အနံ့အသက်များမရှိအောင် ရေစီးရေလာကောင်းမွန်စေရန် ပြုပြင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ မိတ္တာအောင်ကုမ္ပဏီလီမိတက် မှ အထည်ချုပ်လုပ်ငန်းများဆောင်ရွက်ရာတွင် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန်အချိန်ကြာမြင့်ပြီး မြေဆီလွှာထိခိုက်ပျက်စီးခြင်း၊ ပုံစံဖြတ်ခြင်း၊ ပိတ်စညှပ်ခြင်းလုပ်ငန်းအဆင့်များတွင် ထွက်ရှိလာမည့်ဖြတ်စ၊ ညှပ်စ၊ အမှုန်အမွှားများကြောင့် လေထုနှင့်မြေထုညစ်ညမ်းခြင်း၊ လုပ်ငန်းတစ်ခုလုံး၏ အဆင့်တိုင်းတွင် စက်များကို အသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်းစသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မိတ္တာအောင် ကုမ္ပဏီလီမိတက် မှ CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan– EMP) အား ပတ်ဝန်းကျင်

ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄/အလ/ခွဲ(၂) ၂၀၁၆( ၁၁၁၇၀ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မိတ္တအောင်ကုမ္ပဏီလီမိတက် မှ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၀-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၃/မ-၁၃၉၅/၂၀၁၆(၁၃၅၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄၄)၊ မြေကွက်အမှတ် (၅၃)၌ မိတ္တအောင်ကုမ္ပဏီလီမိတက် တည်ထောင်ပြီး မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် ရန်ကုန်တိုင်းဒေသကြီး CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါ်မို့မို့သွင် ၊ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးကျော်ကျော်ထွန်း နှင့် အထည်ချုပ်စက်ရုံအမှတ် (၁၇) စက်ရုံမှူး ဒေါ်လှသီတာ တို့သည် တာဝန်ရှိသူများအား ၂၆-၁၀-၂၀၁၆ ရက်နေ့တွင် စက်ရုံသို့ သွားရောက်စစ်ဆေးခဲ့ပါသည်။

၂။ မိတ္တအောင်ကုမ္ပဏီလီမိတက် ၏ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှုကို စိစစ်ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| **ချုပ်ထည်** | **တစ်ထည်လိုအပ်ချက်နှုန်းထား** | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|
| 1. Jacket | 2.1 yds/pc | ကိုက်ညီမှုရှိပါသည်။ |
| 2. Shirt | 1.6 yds/pc | ။ |
| 3. Polo -Shirt | 1.54 yds/pc | ။ |
| 4. Pants | 1.4 yds/pc | ။ |

အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက် နှုန်းထား၊ တားမြစ်သတ်မှတ်စံနှုန်းထားများနှင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပြီး အပ်ချည်သုံးစွဲမှုတွင် Polo-Shirt နှင့် Pants တို့တွင် များနေပါသည်။

| **ချုပ်ထည်** | **အဆိုပြုထုတ်လုပ်မှု အရေအတွက်** | **တစ်ထည်လိုအပ် ချက်နှုန်းထား** | **လိုအပ်မည့် ကုန်ကြမ်းအရေအတွက်** |
|---|---|---|---|
| 1. Jacket | 80000 pcs | 2.1 yds/pc | 168000 yds |
| 2. Shirt | 120000 pcs | 1.6 yds/pc | 192000 yds |
| 3. Polo -Shirt | 120000 pcs | 1.54 yds/pc | 184800 yds |
| 4. Pants | 90000 pcs | 1.4 yds/pc | 126000 yds |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း 670800 yds ကုန်ကျမည်ဖြစ်သဖြင့် အဆိုပြုချက်တွင် ဖော်ပြထားမှုနှင့် ကိုက်ညီမှုရှိပါသည်။

(ခ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ**

အဆိုပြုချက်ပါ CMP လက်ခ နှုန်းထားများသည် လက်ရှိ လက်ခနှုန်းထား နှင့် နှိုင်းယှဉ်ရာတွင် ဆီလျော်မှုရှိကြောင်း တွေ့ရှိရပါသည်-

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း လက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. Jacket | 33 US$/ Dz | 20-30 US$/Dz |
| 2. Shirt | 24 US$/Dz | 10-12 US$/Dz |
| 3. Polo -Shirt | 26.4 US$/Dz | 16-18 US$/Dz |
| 4. Pants | 21 US$/Dz | 10-12 US$/Dz |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ (၄)မျိုးဖြစ်ပြီး အဓိက စက်အနေဖြင့် Sewing Machines ၂၇၅ လုံး၊ Over Lock Machines ၂၇၀ လုံးဖော်ပြထား၍ Over Lock Machine များနေခြင်း၊ Polo-Shirt ချုပ်ရန် Cover Stitch Sewing Machine ၊ Shirt ချုပ်ရန် 2 Needle Chain Stitch Machine နှင့် Button Attach Machine များ မပါဝင်သဖြင့် တွက်ချက်နိုင်ခြင်းမရှိပါ။ Operators ၃၄၀ ဦး၊ Helpers ၁၀၀ဦး၊ Quality Control Workers ၅ ဦး တို့သာ ခန့်ထားလုပ်ကိုင်စေ၍ စက်အရေအတွက်များပြီး လူအရေအတွက်နည်းနေသဖြင့် Special Machine နှင့် Helper အတွက် လူအင်အား ခွဲချထားပါက စက်အားလုံးလည်ပတ်နိုင်ခြင်းမရှိကြောင်းတွေ့ရှိရ၍ စက်များပြည့်စုံမှသာတွက်ချက်နိုင်မည်ဖြစ်၍ ပြင်ဆင်တင်ပြသင့်ပါသည်။

၃။ သို့ဖြစ်ပါ၍ Meik Ta Aung Company Limited အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

၂၇/၁၀/၂၀၁၆

ဥက္ကဋ္ဌ(ကိုယ်စား)

(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

27/10

မိတ္တူကို

ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးဦးစီးမှူး

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(ရန်ကုန်တိုင်းဒေသကြီး၊ CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

Meik Ta Aung Company Limited

ရုံးလက်ခံ

မျှောစာတွဲ

D:\NPT(ET)\2016\CMP & MIC\CMP(10-2016)\TO MIC.docx

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄/အလ/ခွဲ(၂) ၂၀၁၆(၁၂၉၈၈)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက်

NPT.3250
29.11.16

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-1864
30/11

အကြောင်းအရာ။ **မိတ္တအောင်ကုမ္ပဏီလီမိတက် မှ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုလွှာထပ်မံစိစစ်ဆောင်ရွက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၁၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၃/မ-၁၃၉၅/၂၀၁၆(၁၄၇၄-က)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းချက်ပါစာဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၄၊ မြေကွက်အမှတ်(၅၃)၌ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မိတ္တအောင်ကုမ္ပဏီလီမိတက် တည်ထောင်ကာ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုလွှာထပ်မံ စိစစ်ချက်ပေးပို့လာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ဆောင်ရွက် ချက်ကို အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ဒေါ်မို့မို့သွင် | CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၊ ဥက္ကဋ္ဌ ညွှန်ကြားရေးမှူး၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန | လက်ခံနိုင်ပါသည်။ | |

၂၅/၁၁/၂၀၁၆
ဥက္ကဋ္ဌ(ကိုယ်စား)
(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)
(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးဦးစီးမှူး
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(ရန်ကုန်တိုင်းဒေသကြီး၊ CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)



MIC

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
မိတ္တအောင်ကုမ္ပဏီလီမိတက်
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း

ရင်းနှီးမြုပ်နှံမှုပြုလုပ်လိုသော

# " မိတ္တအောင်ကုမ္ပဏီလီမိတက် "

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt, Pants နှင့်
အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း
ဆောင်ရွက်ခွင့်အဆိုပြုလွှာ

❖❖❖❖❖❖❖❖

၂၀၁၆ခုနှစ်၊ လ၊ ( )ရက်

# MEIK TA AUNG CO.,Ltd

(53) TIME TAR GI ROAD
EAST DAGON INDUSTRIL ZONE
Phone: 959-795641822,
E-Mail: pansabaegarment@gmail.com
Web: www.meiktaaung.mm


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ပြည်ထောင်စုမြန်မာနိုင်ငံ။

ရက်စွဲ။ ။ ၊ စက်တင်ဘာလ၊ ၂၀၁၆

အကြောင်းအရာ။ ။ **CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့်အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်တင်ပြခြင်း။**

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော "**မိတ္တအောင်ကုမ္ပဏီလီမိတက်**" သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ မြေကွက်အမှတ်(၅၃)၊ မြေအကျယ်၂.၃၄၁ ဧက (၉၄၇၃.၆၉၉စတုရန်းမီတာ) အကျယ်အဝန်းရှိ မြေနှင့်အဆောက်အဦးတွင် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်၍အထည်ချုပ်စက်ရုံ တည်ထောင်ပြီး CMP စနစ်ဖြင့် **Jacket, Shirt, Polo-Shirt နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များ၏ CMP စနစ်ဖြင့်အထည်ချုပ်စက်ရုံ တည်ထောင်လုပ်ကိုင်ခြင်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးပါရန်အတွက် အဆိုပြုလွှာကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဦးတင့်နိုင်ထွန်း
မန်နေဂျင်းဒါရိုက်တာ
မိတ္တအောင်ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ပြည်ထောင်စုမြန်မာနိုင်ငံ။

ရက်စွဲ။ ။ ၊ စက်တင်ဘာလ၊ ၂၀၁၆

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂၀ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။**

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော "**မိတ္တအောင်ကုမ္ပဏီလီမိတက်**" သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ မြေကွက်အမှတ်(၅၃)၊ မြေအကျယ်၂.၃၄၁ဧက (၉၄၇၃.၆၉၉စတုရန်းမီတာ) အကျယ်အဝန်းရှိ မြေနှင့်အဆောက်အဦးတွင် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်၍ အထည်ချုပ်စက်ရုံ တည်ထောင်ပြီး CMP စနစ်ဖြင့် **Jacket, Shirt, Polo-Shirt နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

ကျွန်တော်တို့၏ "**မိတ္တအောင်ကုမ္ပဏီလီမိတက်**" သည် ရင်းနှီးမြှုပ်နှံမှုအဖြစ် ကျပ် (1116.169) သန်းကို ရင်းနှီးမြှုပ်နှံမည်ဖြစ် ပါသည်။ ၎င်းတွင်ငွေသားကျပ် 50သန်း၊ စက်ပစ္စည်းများအတွက် USD 414.05(မြန်မာကျပ် 496.860သန်း)၊ ရုံးသုံးပစ္စည်း ကျပ် 22သန်း၊ အဆောက်အဦးဆောက်လုပ်စရိတ် ကျပ် 504သန်း နှင့် မြေတန်ဖိုး 43.309သန်းကို ထည့်ဝင်မည်ဖြစ်ပါသည်။ အဆိုပါ လုပ်ငန်းမှ နိုင်ငံတကာအဆင့်မီ အဝတ်အထည်များထုတ်လုပ်မည်ဖြစ်ပြီး ပြည်ပသို့ CMP စနစ်ဖြင့် (၁၀၀ရာခိုင်နှုန်း) တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

အဆိုပါလုပ်ငန်းတည်ထောင်ခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည်ဖြစ်ပြီး နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေ ရှာဖွေပေးနိုင်မည် ဖြစ်သည်။ ထို့အပြင် အခွန်အကောက်များ တိုးတက်ရရှိစေခြင်းနှင့် ဒေသဆိုင်ရာဖွံ့ဖြိုးတိုးတက်မှုကို ဖြစ်ပေါ်စေခြင်းကိုပါ တစ်ခန်းတစ်ကဏ္ဍ ပါဝင်ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများ အတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏ စီးပွားရေးဖွံ့ဖြိုး တိုးတက်ရန်အတွက်လည်းကောင်း၊ ကျွန်တော်များ၏ အဆိုပြုလွှာလျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၂၀အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားများ၊ စာရွက်စာတန်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သတ်၍ တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(ဃ) မြေငှားစာချုပ် (မူကြမ်း)

(င) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း အထောက်အထားများ

လေးစားစွာဖြင့်



ဦးတင့်နိုင်ထွန်း
မန်နေဂျင်းဒါရိုက်တာ
မိတ္တအောင်ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ပြည်ထောင်စုမြန်မာနိုင်ငံ။

ရက်စွဲ။ ။ ၊ စက်တင်ဘာလ၊ ၂၀၁၆

အကြောင်းအရာ။ ။ **CMP စနစ်ဖြင့် Jacket, Shirt, Polo-Shirt နှင့် Pants စသည့်အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ဝန်ခံကတိပြုချက်တင်ပြခြင်း။**

အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပါလုပ်ငန်းတည်ထောင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်ထုတ်ပေးပါရန် အဆိုပြုတင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်း ဝန်ခံကတိပြုပါသည်။

(၁) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသား မည်သူတစ်ဦးတယောက်မျှပါဝင်ပိုင်ဆိုင်ခြင်း လုံးဝမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(၂) နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) CMP စနစ်ဖြင့်ရရှိသော နိုင်ငံခြားငွေကို သတ်မှတ်ထားသည့် ဘဏ်တို့တွင် စာရင်းဖွင့်လှစ်အပ်နှံ၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၄) ဤအဆိုပြုချက် လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထုတို့ ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများကိုနိုင်ငံတော်မှ သတ်မှတ် ထားသည့် လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(၅) အလုပ်သမား တဦးချင်း၏ လုပ်ခလစာကို နောက်ဆက်တွဲဇယားဖြင့် ဖော်ပြထားပြီး၊ ၎င်းလစာနှုန်းများသည် အမှန်တကယ်ရရှိသည့်လုပ်ခများဖြစ်ပြီး အဆိုပါလစာငွေသည် ကာလဒေသပေါက်ဈေးနှင့် ကိုက်ညီမှုရှိကြောင်း တင်ပြအပ်ပါသည်။

(၆) အဆိုပြုလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းနှင့် အသုံးပြုသော စက်ပစ္စည်းများသည်လည်း အသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၇) ကုန်ချောပစ္စည်းများကို CMPစာချုပ်သဘောတူညီချက်အရ ပစ္စည်းမှာယူသူ၏ ညွှန်ကြားချက်အတိုင်း တင်ပို့သွားမည်ဖြစ်ပြီး ကုန်ကြမ်းနှင့်ကုန်ချောများကို ကုန်းလမ်း၊ရေလမ်းနှင့် လေကြောင်းလမ်းတို့မှတဆင့်တင်သွင်းခြင်း နှင့် တင်ပို့ခြင်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

(၈) လျှပ်စစ်ဓါတ်အား မရသည့်အချိန်တွင် စက်ရုံ၏မီးစက်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

(၉) "မိတ္တအောင်ကုမ္ပဏီလီမိတက်" အနေဖြင့်ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်၊ တိုင်း၊ ဒေသန္တရ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည် ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်



ဦးတင့်နိုင်ထွန်း
မန်နေဂျင်းဒါရိုက်တာ
မိတ္တအောင်ကုမ္ပဏီလီမိတက်

## **အလုပ်သမားများ၏ ဝင်ငွေခွန်ပေးဆောင်ရေးနှင့် ပတ်သက်၍ ဝန်ခံကတိပြုချက်**

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ "**မိတ္တာအောင်ကုမ္ပဏီလီမိတက်**"သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ မြေကွက် အမှတ်(၅၃)၊ မြေအကျယ်၂.၃၄၁ဧက (၉၄၇၃.၆၉၉၈စတုရန်းမီတာ) အကျယ်အဝန်းရှိမြေနှင့် အဆောက်အဦးတွင် ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍အထည်ချုပ်စက်ရုံတည်ထောင်ပြီး CMP စနစ်ဖြင့် **Jacket, Shirt, Polo-Shirt နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

ကုမ္ပဏီ၏တစ်နှစ်လစာကျပ် (၄,၈၀၀,၀၀၀)နှင့်အထက် ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ပေးဆောင်ခြင်းနှင့်ပတ်သက်၍ ကုမ္ပဏီကတာဝန်ယူပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



ဦးတင့်နိုင်ထွန်း
မန်နေဂျင်းဒါရိုက်တာ
မိတ္တာအောင်ကုမ္ပဏီလီမိတက်

## မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်ကြောင်းဝန်ခံကတိပြုချက်

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ "**မိတ္တအောင်ကုမ္ပဏီလီမိတက်**"သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ မြေကွက်အမှတ်(၅၃)၊ မြေအကျယ်၂.၃၄၁ဧက (၉၄၇၃.၆၉၉စတုရန်းမီတာ) အကျယ်အဝန်းရှိ မြေနှင့်အဆောက်အဦးတွင် ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍အထည်ချုပ်စက်ရုံတည်ထောင်ပြီး CMP စနစ်ဖြင့် **Jacket, Shirt, Polo-Shirt နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၎င်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသား မည်သူတစ်ဦးတစ်ယောက်မျှ ပါဝင်ပိုင်ဆိုင်ခြင်း လုံးဝမရှိကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်



ဦးတင့်နိုင်ထွန်း
မန်နေဂျင်းဒါရိုက်တာ
မိတ္တအောင်ကုမ္ပဏီလီမိတက်

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
( ဥပဒေပုဒ်မ ၂ပုဒ်မခွဲ (ဂ) နှင့်ပုဒ်မ ဂ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၊၂၀၁၆ခုနှစ်၊ စက်တင်ဘာလ၊ ( )ရက်

ကျွန်တော်/ ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

| | |
|---|---|
| (က) အမည် | ဦးတင့်နိုင်ထွန်း |
| (ခ) အဖအမည် | ဦးထွန်းဝေ |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၄/ ပသန(နိုင်)၀၀၀၆၂၃ |
| (ဃ) နေရပ်လိပ်စာ | တိုက်(၅)၊ အခန်း(၁၀)၊ (၃)လွှာ၊ နင်းဆီလမ်း၊ သာယာကုန်းရပ်ကွက်၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်တိုင်း။ |
| (င) လူမျိုး၊ဘာသာ | ဗမာ/ ဗုဒ္ဓ |
| (စ) အဖွဲ့အစည်းအမည် | မိတ္တအောင်ကုမ္ပဏီလီမိတက် |
| (ဆ) လုပ်ငန်းအမျိုးအစား | အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်(၅၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်။ |

၂။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား-

| | |
|---|---|
| (က) ကုန်ထုတ်လုပ်မှုလုပ်ငန်း | CMP စနစ်ဖြင့် **Jacket, Shirt, Polo-Shirt နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း |

(ခ) ဝန်ဆောင်မှုလုပ်ငန်း
( ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန် )

၃။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................

၄။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင်

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း

(ဂ) လီမိတက်ကုမ္ပဏီ မိတ္တအောင်ကုမ္ပဏီလီမိတက်

(ဃ) သမဝါယမအသင်း

**Annex (1)**

( အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/ အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်း အမျိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊နေရပ်လိပ်စာများနှင့် ရာထူးတို့ကိုပူးတွဲတင်ပြရန်)

၅။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

..........................................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား

..........................................................................................

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

..........................................................................................

( နေရာမလုံလောက်က သီးခြားစာရွက်ဖြင့်ဖော်ပြရန်)။

၆။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက-

(က) ခွင့်ပြုမတည်ငွေရင်း ကျပ် ၁,၀၀၀,၀၀၀,၀၀၀/-

(ခ) အစုရှယ်ယာအမျိုးအစား သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ၁၀၀၀၀ ရှယ်ယာ

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ- **Annex (2)**

| (က) မတည်ငွေရင်းပမာဏ(ကျပ်) | ကျပ်(၀၀၀) | USD(၀၀၀) | စုစုပေါင်းကျပ်(၀၀၀) |
|---|---|---|---|
| (၁) ငွေပမာဏ | ၅၀,၀၀၀ | | ၅၀,၀၀၀ |
| (၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ | | ၄၁၄.၀၅ | ၄၉၆,၈၆၀ |
| (၃) အဆောက်အအုံများ/မြေ | ၄၃,၃၀၉ | | ၄၃,၃၀၉ |
| (၄) ဆောက်လုပ်ရေးစရိတ် | ၅၀၄,၀၀၀ | | ၅၀၄,၀၀၀ |
| (၄) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများတန်ဖိုးပမာဏ | ၂၂,၀၀၀ | | ၂၂,၀၀၀ |
| (၅) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ | | | |
| | ၆၁၉,၃၀၉ | ၄၁၄.၀၅ | ၁၁၁၆,၁၆၉ |

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

(၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းများတို့၏တန်ဖိုးပမာဏ US$ 414.05 **Annex (4)**

(၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြား အလားတူပစ္စည်းများ၏တန်ဖိုး (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) **Annex (6-A)**

(၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ

(ဂ) တည်ဆောက်မှုကာလ — တစ်နှစ်

(ဃ) တည်ဆောက်မှု စတင်မည့်အချိန် — MIC ခွင့်ပြုမိန့်ရပြီးရက်ပေါင်း (၃၀)အတွင်း

၈။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား — CMP စနစ်ဖြင့် **Jacket, Shirt, Polo-Shirt နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဒေသ — အမှတ်(၅၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၄)၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် — CMP စနစ်ဖြင့် **Jacket, Shirt, Polo-Shirt နှင့် Pants** စသည့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်-

| အမျိုးအစား | အရေအတွက် |
|---|---|
| ၁။ ဓါတ်ဆီ | |
| ၂။ ဒီဇယ် | |
| ၃။ စက်ဆီ/ ချောဆီ | |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်-

| အားအသုံးပြုမှု | ယူနစ် |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | ၅၀၀၀၀၀ KWH |
| ၂။ ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အား | |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | |
| ၅။ ပေးပို့သည့်အခြားအား | |

(စ) နှစ်စဉ်ရေလိုအပ်ချက် — ၉၀၀၀၀၀ ဂါလံ
(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက်

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | **Annex 6 and 6 A** | |
| (၁) | | | |
| (၂) | | | |
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| (၁) | | | |
| (၂) | | | |

၃။ စက်သုံးဆီ/ဓါတ်ငွေ့များ-

(၁)

(၂)

(ဇ) အဆောက်အအုံလိုအပ်ချက် **Annex (5)**

(ဈ) မြေနေရာအမျိုးအစား နှင့် အကျယ်အဝန်းလိုအပ်ချက် စက်မှုဇုန်မြေ၊ ၂.၃၄၁ ဧက (၉၄၇၇.၆၉၉စတုရန်းမီတာ)

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု **Annex (7)**

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ...................... | ..................... | ............................. | ....................... |
| ...................... | ..................... | ............................. | ........................ |
| ...................... | ..................... | ............................. | ........................ |
| ...................... | ..................... | ............................. | ........................ |

(ဋ) ရောင်းချမည့်နည်းစနစ် CMP စနစ်ဖြင့် 100% ပြည်ပသို့တင်ပို့ခြင်းစနစ်

၉။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ- **Annex (7) and (8)**

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့်ကျပ်ငွေ | | |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | | |
| (ဂ) ရရှိမည့်နိုင်ငံခြား သုံးငွေပမာဏ | | |
| (ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | | |
| (င) နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | | |

၁၀။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းများစာရင်း- **Annex (9)**

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ- စုစုပေါင်းဝန်ထမ်းဦးရေ (၁၀၀၀)ဦး

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ............................................ | ................................ |
| ............................................ | ................................ |
| ............................................ | ................................ |

(ခ) နိုင်ငံခြားမှ လိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| ............................................ | .................. | ................................ |
| ............................................ | .................. | ................................ |
| ............................................ | .................. | ................................ |

၁၁။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ- **Annex (7), (8), (9), (10) and (11)**

| | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | **Annex (7)** | |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | **Annex (8)** | |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | **Annex (8)** | |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု အရင်းကျေကာလ | **Annex (10)** | |
| (စ) အခြားအကျိုးအမြတ်များ | | |
| (ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ | **Annex (9)** | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ၊

လေးစားစွာဖြင့်



ဦးတင့်နိုင်ထွန်း
မန်နေဂျင်းဒါရိုက်တာ
မိတ္တာအောင်ကုမ္ပဏီလီမိတက်

